


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၈၂၇................../၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးကျင်စိန်(ခ)လင်ကရန်စိန်

(ခ) အဘ အမည် ဦးလင်ချန်အင်(ခ)ဦးစန်းရှင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ (နိုင်) ၀၃၀၄၈၇

(ဃ) နေရပ်လိပ်စာ အမှတ်(၅- အေ/ဘီ)၊ ဝင်ကမ္ဘာလမ်း၊ ဗိုလ်ချိုရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ကြီးမြတ်ကံကောင်းသောကြယ်ပွင့်အထည်ချုပ်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Great Lucky Star Garment Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် လက်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်(၂၄+၂၅)၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ စက်မှုလမ်းမကြီး၊ရွှေပြည်သာစက်မှုဇုန်(၁)၊ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၂.၉၂(သန်း) (အမေရိကန်ဒေါ်လာ (၀.၀၉) သန်းအပါအဝင် စုစုပေါင်းကျပ်နှစ်ဆယ့်နှစ်သန်း၊ ကိုးသိန်းနှစ်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၆၆ / ၂၀၁၁(မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ် ၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၄ ရက်

(၂၀၁၁ခုနှစ်၊ နိုဝင်ဘာ လ ၂၄ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် ဒေါ်ကြိုင် အမည်ဖြင့် ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး ၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၁)၊ စက်မှုလမ်းမကြီး၊ မြေတိုင်း ရပ်ကွက် အမှတ်-၄၂၊ မြေကွက် အမှတ် (၂၄၊၂၅) ရှိ မြေ (၀.၄၉၁)ဧက ဧက နှင့် ယင်း မြေပေါ်ရှိ အဆောက်အဦတို့ကို ငှားရမ်း၍ CMP စနစ်ဖြင့် လက်အိတ်(Glove) ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၃-၁၁-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၂၅/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) အား CMP စနစ်ဖြင့် လက်အိတ်(Glove) ထုတ်လုပ် ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၂၇/၂၀၁၁ ကို ထုတ်ပေးလိုက် သည်။

၂။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ် မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်း လွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ် ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%)အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေ

ခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဈ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက် ရန်။

၄။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဒေါ်ကြိုင် နှင့် အငှားချထားခြင်းခံရသူ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၉။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း

ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက်လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၁။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင် ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး

အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၁၈၈/ ၂၀၁၁(၁၄၅၃၀)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၂၄ ရက်။

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။
၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။
၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။
၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။
၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၆။ ပြည်ထဲရေးဝန်ကြီးဌာန။
၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၁၀။ အလုပ်သမား ဝန်ကြီးဌာန။
၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၆။ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့။

၁၇။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)

၁၈။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၈။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၃၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၁။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၃။ အုပ်ချုပ်မှုဒါရိုက်တာ ၊ ကြီးမြတ်ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Great Lucky Star Garment Manufacturing Co., Ltd.)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(က) /မ-ထွေ /၂၀၁၁ (၁၄၇၀၅)

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၂၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ CMP လုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီ(၂)ခု (ထိပ်ဆုံးအပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက်၊ ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက်) တို့၏ အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ**

၁။ အောက်ပါ ကုမ္ပဏီ (၂)ခုတို့သည် CMP အထည်ချုပ် ထုတ်လုပ်ခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်များ တင်ပြခဲ့ပါသည်-

(က) ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက်

(ခ) ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက်

၂။ အဆိုပြု ကုမ္ပဏီ(၂)ခုတို့၏ CMP လုပ်ငန်း အဆိုပြုချက်များ တင်ပြခြင်းအပေါ် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို ပူးတွဲ တင်ပြလျှက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

၃။ လုပ်ငန်း အဆိုပြုချက်များ နှင့်စပ်လျဉ်း၍ ဌာနဆိုင်ရာများသို့ သဘောထား တောင်းခံထားမှုနှင့် သဘောထား ရရှိမှု အခြေအနေများကို နောက်ဆက်တွဲများဖြင့် တင်ပြအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ-ရုံးလက်ခံ

လျှို့ဝှက်

| စဉ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| ၁။ | လုပ်ငန်းအဆိုပြုသူ အမည် | ဒေါ်အေးအေးမြတ်လွင် | ဦးကျင်စိန်(ခ)လင်ကရန်စိန် |
| ၂။ | တည်နေရာ/ အကျယ်အဝန်း | ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ မက္ခရာမင်းသားကြီး လမ်း၊ မြေတိုင်း ရပ်ကွက် အမှတ်-၂၅၊ မြေကွက် အမှတ်(၆၉)ရှိ မြေ(၁.၂၇၁) ဧက<br>မြေငှားစာချုပ် နှင့် မြေဂရန် မိတ္တူများ တင်ပြထားပါသည်။ | ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှုလမ်းမကြီး၊ မြေတိုင်း ရပ်ကွက် အမှတ်(၄၂)၊ မြေကွက် အမှတ်(၂၄၊၂၅)ရှိ မြေ (၀.၄၉၁) ဧက<br>မြေငှား စာချုပ် နှင့် မြေဂရန် မိတ္တူများ တင်ပြ ထားပါသည်။ |
| ၃။ | ဆောင်ရွက်မည့် လုပ်ငန်း | CMP စနစ်ဖြင့် စက်မှုလုပ်ငန်းသုံး ရာဘာပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း (၁၀၀ % ပြည်ပသို့ တင်ပို့မည် ဖြစ်ပါသည်။) | CMP စနစ်ဖြင့် လက်အိတ်များထုတ်လုပ်ခြင်း လုပ်ငန်း<br>( ပြည်ပသို့ ၉၉ % တင်ပို့ပြီး ပြည်တွင်းတွင် ၁ % ရောင်းချမည် ဖြစ်ပါသည်။) |
| ၄။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | **<u>စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ် ၂၇.၉၈ သန်း</u>**<br>(US$ ၀.၀၅ သန်း အပါအဝင်)<br>ငွေသား ၁၀.၀၀<br>စက်ပစ္စည်း ၀.၃၁<br>ကိရိယာများ<br>ပရိဘောဂ နှင့် ၂.၆၇<br>လုပ်ငန်းသုံး ပစ္စည်းများ<br>အဆောက်အဦ ၁၅.၀၀ | **<u>စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ် ၂၂.၉၂ သန်း</u>**<br>(US$ ၀.၀၉ သန်း အပါအဝင်)<br>ငွေသား ၂၀.၀၀<br>စက်ပစ္စည်း ၀.၅၄<br>ကိရိယာများ<br>ပရိဘောဂ နှင့် ၂.၃၇<br>လုပ်ငန်းသုံး ပစ္စည်းများ<br>လျှပ်စစ်ပစ္စည်းများ ၀.၀၁ |
| ၅။ | စက်ပစ္စည်းဝယ်ယူမှု | စက်ပစ္စည်းများအား အမေရိကန် ဒေါ်လာ (၀.၀၅) သန်းဖိုးရှိ ပစ္စည်းများအား ပြည်ပမှ ဝယ်ယူ မည် ဖြစ်ပါသည်။ | စက်ပစ္စည်းများအား အမေရိကန် ဒေါ်လာ (၀.၀၉) သန်းဖိုးရှိ ပစ္စည်းများအား ပြည်ပမှ ဝယ်ယူမည် ဖြစ်ပါသည်။ |

| စဉ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ဂုဏ်ကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| ၆။ | ရန်ကုန်တိုင်းဒေသကြီးမှ သဘောထား ပြန်ကြားချက် | - စက်ရုံသည် လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန်၊ မဟာ့ရာမင်းသားကြီး လမ်း၊ မြေတိုင်း ရပ်ကွက် အမှတ်-၂၅၊ မြေကွက် အမှတ်(၆၉)ရှိ မြေ(၁.၂၇၁)ဧက ပေါ်တွင် တည်ရှိ၍ နိုင်ငံသားပိုင် ဖြစ်ပြီး ကုမ္ပဏီအနေဖြင့် အငှားစာချုပ်ဖြင့် လုပ်ကိုင်နေခြင်း ဖြစ်ကြောင်း၊ အလုပ်သမား (၅၀)ဦး ရှိပြီး လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးဘဲ သင်တန်းပေးလျက် ရှိကြောင်း၊ ကုန်ချောများကို ဂျပန်နိုင်ငံသို့ တင်ပို့မည် ဖြစ်ကြောင်း၊ | - ကုမ္ပဏီမှ နိုင်ငံတကာအဆင့်မီ လက်အိတ် များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် မှုအား ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက် ခွင့်ပြုသင့်ပါကြောင်း၊ |
| ၇။ | CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ သဘောထား ပြန်ကြားချက် | - ကုမ္ပဏီသည် ကုန်ကြမ်းများ တွက်ချက် ထားမှု ၊ စံနှုန်းများသည် ပြည့်စုံမှု မရှိ၍ ပြန်လည် တွက်ချက် တင်ပြရန် လိုပါ ကြောင်း၊ လက်ခ နှုန်းထားများသည် ထုတ်လုပ်မည့် ပစ္စည်း အရေ အတွက် ၊ အသုံးပြုမည့် ဝန်ထမ်းအင်အား၊ ထုတ်လုပ်မှု စရိတ် များနှင့် နှိုင်းယှဉ်ပါက ဆီလျော်မှု ရှိပါကြောင်း၊ အလုပ်သမား (၁၂)ဦးခန့် ထပ်မံ ခန့်ထားရန် လိုအပ်ကြောင်း၊ | - (၃၀-၁၀-၂၀၁၁)ရက်စွဲ ဖြင့် သဘောထား တောင်းခံထားပါသည်။ |
| ၈။ | ပုံမှန်နှစ် ထုတ်လုပ်မှု | ဒါဇင်/ထောင်ပေါင်း<br>PK 932 2720 - ၂၂၂၂၂<br>PK 14 E611-0042 - ၁၄၄၄<br>PK 14F 181-0020 - ၁၁၁၁၁<br>PK A5F 091-0042 - ၂၂၂၂၂<br>GROMET 933-5870 - ၂၂၂၂၂<br>GROMET 933-7430 - ၁၁၁၁၁<br>PK 15T380-0030 - ၁၆၆၆၇<br>GROMET 3010 - ၂၂၂၂၂ | ဒါဇင်/ထောင်ပေါင်း<br>Glove<br>(Leather & Cotton) ၁၃၅ |

| စဉ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| | | PK B95362-0070 - ၂၂၂၂၂၂<br>PK A4G082-0070 - ၂၂၂၂၂<br>CAP 924-6920 - ၁၆၆၆၇<br>PK 932- 2780 - ၁၆၆၆၇<br>PK 932-2930 - ၂၂၂၂၂<br>GROMET 933-6760 - ၁၆၆၆၇<br>303 M PUILY —LF - ၇၇၇၈<br>ROLLY-FE-PICK - ၅၅၅၆<br>ROLLER OFFSET - ၂၂၂၂၂<br>BARKER ROLLER - ၈၈၈၉<br>PICK ROLLER - ၁၁၁၁၁<br>PICKUP ROLLER - ၄၄၄၄<br>PLATEN ROLLER 30 - ၁၁၁၁<br>PLATEN ROLLER 18& 14 - ၁၁၁၂ | |
| ၉။ | CMP လက်ခ | **US$/ဒါဇင် ကျပ်/ဒါဇင်**<br>PK 932 2720 - ၀.၁၇၂<br>PK 14 E611-0042 - ၁.၀၄၃<br>PK 14F 181-0020 - ၁.၀၀၃<br>PK A5F 091-0042 - ၀.၁၈၅<br>GROMET 933-5870 - ၀.၂၂၄<br>GROMET 933-7430 - ၀.၂၅၁ | **US$/ဒါဇင် ကျပ်/ဒါဇင်**<br>Glove - ၂.၄၀ ၁၉၀၀ |

| စဉ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည့်ပြည့်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| | | PK 15T380-0030 - ၀.၃၈၃<br>GROMET 3010 - ၀.၃၈၃<br>PK B95362-0070 - ၀.၁၄၅<br>PK A4G082-0070 - ၀.၄၄၉<br>CAP 924-6920 - ၀.၂၆၄<br>PK 932- 2780 - ၀.၁၅၈<br>PK 932-2930 - ၀.၁၅၈<br>GROMET 933-6760 - ၀.၄၂၂<br>303 M PUILY —LF - ၂.၃၅၀<br>ROLLY-FE-PICK - ၂.၁၁၂<br>ROLLER OFFSET - ၁.၉၀၁<br>BARKER ROLLER - ၂.၀၀၆<br>PICK ROLLER - ၁.၈၂၂<br>PICKUP ROLLER - ၂.၆၅၃<br>PLATEN ROLLER 30 - ၄.၀၉၂<br>PLATEN ROLLER - ၁၁.၆၆၅<br>18& 14 | |
| ၁၀။ | ဝင်ငွေ(ပုံမှန်နှစ်)<br>(၆ ကျပ် နှုန်း)<br>-အမေရိကန်ဒေါ်လာ<br>-ကျပ်ငွေ | **၀.၈၅** သန်း<br>- ၀.၁၄ သန်း<br>- - | **၄.၄၉** သန်း<br>- ၀.၃၂ သန်း<br>- ၂.၅၇ သန်း |



2_CMP_MIG.doc

| စဥ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| ၁၁။ | ဝင်ငွေ (ပုံမှန်နှစ်)<br>(ဈေးကွက်ပေါက်နှုန်း)<br>-အမေရိကန်ဒေါ်လာ<br>-ကျပ်ငွေ | ၁၄၂.၀၀ သန်း<br><br>- ၀.၁၄ သန်း<br>- - | ၂၅၉.၁၇ သန်း<br><br>- ၀.၃၂ သန်း<br>- ၂.၅၇ သန်း |
| ၁၂။ | အသားတင်အမြတ်<br>(ဈေးကွက်ပေါက်နှုန်း) | ၁၁.၈၈ သန်း | ၁၅.၁၃ သန်း |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>၁၀% CMP လက်ခ | ၀.၀၁ သန်း | ၀.၀၃ သန်း |
| ၁၄။ | အရင်းကြေကာလ | ၆ နှစ် နှင့် ၃ လ | ၄ နှစ် နှင့် ၁၀ လ |
| ၁၅။ | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၂၂.၄၀ % | ၁၅.၉၃ % |
| ၁၆။ | လုပ်သားအင်အား<br>ပြည်တွင်း<br>ပြည်ပ | <br>၇၀ ဦး<br>၁ ဦး | <br>၁၆၀ ဦး<br>- |
| ၁၇။ | ငွေကြေးအထောက် အထားတင်ပြချက် | ကျပ်ငွေ အထောက် အထားအဖြစ် အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဒေါ်အေးအေး မြတ်လွင် အမည်ဖြင့် CBဘဏ်ရှိ(၁-၈-၂၀၁၁) နေ့ရှိ ငွေ လက်ကျန် ကျပ် (၆၀.၄၀) သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်ငွေ (၂၇.၈၉) သန်း၏ (၁၀၀%) ကျော် ရှိပါသည်။ | ငွေကြေးဆိုင်ရာ အထောက် အထား အဖြစ် အုပ်ချုပ်မှုဒါရိုက်တာ ဖြစ်သူ ဦးကျင်စိန် အမည်ဖြင့် KBZ ဘဏ်ရှိ (၁၉-၁၀-၂၀၁၁) နေ့ ရှိ ငွေလက်ကျန် ကျပ် (၈.၆၆) သန်း နှင့် ဒါရိုက်တာဖြစ်သူ ဒေါ်ရီရီစိုး အမည်ဖြင့် KBZ ဘဏ်ရှိ (၁၈-၁၀-၂၀၁၁) နေ့ ရှိ ငွေလက်ကျန် ကျပ် |

| စဉ် | ကုမ္ပဏီအမည် | ထိပ်ဆုံး အပြည်ပြည်ဆိုင်ရာ စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် | ကြီးမြတ် ကံကောင်းသော ကြယ်ပွင့် အထည်ချုပ် ကုမ္ပဏီလီမိတက် |
|---|---|---|---|
| | | | (၂၀.၀၀) သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ်(၂၂.၉၁)သန်း၏(၁၀၀)% ကျော် တင်ပြထားပါသည်။<br>နိုင်ငံခြားငွေ အထောက် အထား အဖြစ် ဒါရိုက်တာဖြစ်သူ ဒေါ်ရီရီစိုး အမည်ဖြင့် MICB ရှိ (၁၇-၁၀-၂၀၁၁) နေ့ ငွေလက်ကျန် US$ (၁၀၀၀၀၀) ကို တင်ပြထားရာ သုံးစွဲရန် US$ (၁၄၀၀၀) ၏ (၁၀၀) % ကျော် တင်ပြထားပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အား ရယူအသုံးပြုမှု | လျှပ်စစ်ဓါတ်အား လိုအပ်ချက် နှင့်စပ်လျဥ်း၍ ဓါတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင် မီးစက်များ ထားရှိ၍ ဆောင်ရွက်မည် ဖြစ် ကြောင်း တင်ပြထားပါသည်။ | လျှပ်စစ်ဓါတ်အား လိုအပ်ချက် နှင့်စပ်လျဥ်း၍ ဓါတ်အား မရရှိသော အချိန်တွင် မီးစက်များ ထားရှိ၍ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြား | **ဆောက်လုပ်ရေးဝန်ကြီးဌာန** မှ ကုမ္ပဏီသည် မြေ ငှားရမ်းခ တစ်လ (၁၅)သိန်း နှုန်းဖြင့် ငှားရမ်းထားပြီး ကာလ ပေါက်ဈေးနှင့် သင့်လျော်မှု ရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်ပါကြောင်း၊<br>**RUMFCCI** မှ အဆိုပြု လုပ်ငန်းကို MCIL ဥပဒေ နှင့်အညီ ဆောင်ရွက်ရန် ဤအသင်းအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊<br>**နိုင်ငံခြားရေးဝန်ကြီးဌာန** မှ စာချုပ်ချုပ်ဆို လုပ်ကိုင်မည့် ဂျပန်နိုင်ငံရှိ ကုမ္ပဏီ၏ ကုမ္ပဏီ မှတ်ပုံတင် စာနှင့်အတူ Profile ၊ MOU ထိုး ထားသည်မှာလည်း မှန်ကန်မှု ရှိပါကြောင်း၊ | **ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန** မှ ကုမ္ပဏီသည် တစ်လလျှင် မြေနှင့်အဆောက်အဦ ငှားရမ်းခ ငွေကျပ်(၃၀)သိန်းဖြင့် ငှားရမ်းထားပြီး ကာလပေါက်ဈေးနှင့် သင့်လျော်မှု ရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်ပါကြောင်း၊<br>**RUMFCCI** မှ အဆိုပြု လုပ်ငန်းကို MCIL ဥပဒေ နှင့်အညီ ဆောင်ရွက်ရန် ဤအသင်း အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ |